ပုံစံ (မနသ - ၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ........၇၅၃................/၂၀၁၀ ။ ၂၀၁၀ ခုနှစ်၊ ဇူလိုင် လ ၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ....... ဦးအောင်သက်မန်း

(ခ) အဘ အမည် ....... ဦးသူရရွှေမန်း

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ....... ၇ /သကန(နိုင်) ၀၇၈၈၄၂

(ဃ) နေရပ်လိပ်စာ ....... အမှတ်(၁၀၃/၇)၊ အောင်မြေသာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ....... ရွှေယမုံထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Yamone Manufacturing Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ....... တန်(၃၀၀)ဆံ့အအေးခန်းစက်ရုံတည်ဆောက်ပြီး သန့်ရှင်းလတ်ဆတ်သော ငါး/ပုစွန်များ ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းနှင့်ဝန်ဆောင်ခြင်းလုပ်ငန်း၊

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ....... မြေကွက်အမှတ် (C,C-1)၊ ကျောက်မော်ရွာကွင်း၊ ကွင်းအမှတ်(၅၇၉)၊(၃)မိုင်မြို့ကွက်သစ်၊လပွတ္တာမြို့နယ်၊ ဧရာဝတီတိုင်း။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ....... ၇၉၇.၂၆(သန်း) (ကျပ်ခုနစ်ရာ၊ကိုးဆယ့်ခုနစ်သန်း၊နှစ်သိန်း၊ ခြောက်သောင်း)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၁၄ /၂၀၁၀ (မနသ)

ရန်ကုန်မြို့၊ ၁၃၇၂ ခုနှစ်၊ ပထမဝါဆိုလပြည့်ကျော် ၁၁ ရက်

(၂၀၁၀ ခုနှစ်၊ ဇူလိုင် လ ၅ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော ရွှေယမုံ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Yamone Manufacturing Co., Ltd.) သည် ကုမ္ပဏီ အမည်ဖြင့် လှိုင်သာယာမြို့ (၃)မိုင် မြို့ကွက်သစ် ချထား ရေး ကော်မတီမှ အသုံးပြုခွင့် ရရှိထားသော မြေကွက်အမှတ် (C,C-1)၊ ကျောက်မှော်ရွာကွင်း၊ ကွင်းအမှတ် (၅၇၉)၊ (၃)မိုင် မြို့ကွက်သစ်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ(၃.၆၇၂)ဧက (၁၄၈၆၀.၀၇ စတုရန်းမီတာ)တွင် တန်(၃၀၀)ဆံ့ အအေးခန်း စက်ရုံတည်ဆောက်ပြီး သန့်ရှင်း လတ်ဆတ်သော ငါး/ပုစွန်များ ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းနှင့် ဝန်ဆောင်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက် အား(၂၆-၃-၂၀၁၀) နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀/၂၀၁၀) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၂-၆-၂၀၁၀)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ ၏ (၁၆/၂၀၁၀) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ (၂၄-၆-၂၀၁၀) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၂၄/၂၀၁၀)အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ် ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် ရွှေယမုံ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Yamone Manufacturing Co., Ltd.) အား တန်(၃၀၀)ဆံ့ အအေးခန်း စက်ရုံတည်ဆောက်ပြီး သန့်ရှင်း လတ်ဆတ်သော ငါး/ပုစွန်များ ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းနှင့် ဝန်ဆောင်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၇၅၃/ ၂၀၁၀ ကို ထုတ်ပေးလိုက်သည်။

၂။ ရွှေယမုံ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Yamone Manufacturing Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု နှင့် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ တွင် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်း ချက်များ နှင့် အညီ အောက် ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ၁၃(ခ)အရလုပ်ငန်းက နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေ ဖြင့်ရရှိသည့် အမြတ်ငွေ ပေါ်တွင် (၅၀%) အထိ ကာလ အကန့်အသတ်ဖြင့် ဝင်ငွေ ခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ်ခံစားပြီး နောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ၁၃(ဂ)အရ ထုတ်လုပ်မှုနှင့်ဝန်ဆောင်မှုလုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှု အခြေအနေ ကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေ ထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီး မြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြ လျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျှော့ငွေ ကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ် ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျှော့နှုန်းထားများကို ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

၃။ ရွှေယမုံ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Yamone Manufacturing Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ ၌ ဖော်ပြထားသည့် <u>ထုတ်လုပ်မှုဝန်ဆောင်မှု နှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ</u> အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ ရွှေယမုံ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Yamone Manufacturing Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစု ထားရှိ ရမည်။

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက် ရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ အလုပ်သမားများ သက်သာ ချောင်ချိရေး နှင့် လုပ်ငန်းခွင် သာယာရေးတို့အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၇။ ရွှေယမုံ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Yamone Manufacturing Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ပတ်ဝန်းကျင်တွင် အနံ့ဆိုးများ ဖြစ်ပေါ်စေပြီး ပတ်ဝန်းကျင် ညစ်ညမ်းမှု ဖြစ်ပေါ်၍ တိုင်ကြားလာပါက စက်ရုံ ပိတ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၈။ ရွှေယမုံ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Yamone Manufacturing Co., Ltd.) သည် အဆိုပြုချက်တွင် ဝန်ခံကတိ ပြုထားသည့်အတိုင်း ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း စက်မှု ကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီး ဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၉။ ရွှေယမုံ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Yamone Manufacturing Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ / အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။အဆိုပြု လုပ်ငန်း ၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၀။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၁။ ရွှေယမုံ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Yamone Manufacturing Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန များမှ ချမှတ်ထား

သော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များ ကို လိုက်နာ ဆောင်ရွက် ခြင်းမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်း သည်အထိ အရေးယူခြင်း ခံရမည်။

၁၂။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၃။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(မောင်မောင်သိမ်း)
ဥက္ကဋ္ဌ

မ-၁၀၆၂/ ၉၇၂၉

စာအမှတ်၊ရက-၆(က) /မ- ၁၀၆၂ /၂၀၁၀(၉ ၇၂၀ )
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဇူလိုင် လ ၇ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရ အဖွဲ့ရုံး။

၄။ ဧရာဝတီတိုင်း အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး၊ ပုသိမ်မြို့။

၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အဖွဲ့ဝင်များ။

၆။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၇။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၈။ အလုပ်သမား ဝန်ကြီးဌာန။

၉။ ပြည်ထဲရေး ဝန်ကြီးဌာန။

၁၀။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၁။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၂။ မွေးမြူရေး နှင့်ရေလုပ်ငန်း ဝန်ကြီးဌာန။

၁၃။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန။

၁၄။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည် ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့။ (ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၅။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၂၆။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ရွှေယမုံ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Yamone Manufacturing Co., Ltd.)

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

M-1007
2/7

ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဇူလိုင် လ ၂ ရက်၊

အကြောင်းအရာ။ ။ ရွှေယမုံ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Yamone Manufacturing Co., Ltd.) မှ တန်(၃၀၀)ဆံ့ အအေးခန်း စက်ရုံ တည်ဆောက်ပြီး သန့်ရှင်းလတ်ဆတ်သော ငါး/ပုစွန်များ ပြုပြင် အေးခဲ ထုတ်လုပ်ခြင်းနှင့် ဝန်ဆောင်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ရွှေယမုံ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Yamone Manufacturing Co., Ltd.) သည် ကုမ္ပဏီ အမည်ဖြင့် လပွတ္တာမြို့၊ (၃)မိုင် မြို့ကွက်သစ် ချထားရေး ကော်မတီမှ အသုံးပြုခွင့် ရရှိထားသော မြေကွက်အမှတ် (C,C-1)၊ ကျောက်မှော်ရွာ ကွင်း၊ ကွင်းအမှတ်(၅၇၉)၊ (၃)မိုင်မြို့ကွက်သစ်၊ လပွတ္တာမြို့နယ်၊ ဧရာဝတီတိုင်းရှိ မြေ (၃.၆၇၂) ဧက (၁၄၈၆၀.၀၇ စတုရန်းမီတာ)တွင် တန်(၃၀၀)ဆံ့ အအေးခန်း စက်ရုံတည်ဆောက်ပြီး သန့်ရှင်း လတ်ဆတ်သော ငါး/ပုစွန်များ ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းနှင့် ဝန်ဆောင်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၆-၃-၂၀၁၀)နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၁/၂၀၁၀) အစည်းအဝေးသို့ တင်ပြခဲ့ ပါသည်။

၂။ ကော်မရှင်မှစိစစ်ခဲ့ပြီး(၂-၆-၂၀၁၀)နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ ၏ (၁၆/၂၀၁၀) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက် အရ (၂၄- ၆-၂၀၁၀) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၂၄/၂၀၁၀ ) အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ နှင့် ယင်းဥပဒေ ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၄) ၊ အပိုဒ် ၁၂ တို့နှင့်အညီ ရွှေယမုံ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Yamone Manufacturing Co., Ltd.) အား ငါး/ပုစွန်များ ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းနှင့် ဝန်ဆောင်ခြင်းလုပ်ငန်းဆောင်ရွက်ရန် ထုတ်ပေး မည့်ခွင့်ပြုမိန့်နှင့်အမိန့်ကြော်ငြာစာတွင်လက်မှတ်ရေးထိုးပေးနိုင်ပါရန်ပြုစုတင်ပြ အပ်ပါသည်။

(signature)

(သူရိန်ဇော်၊ အတွင်းရေးမှူး)

ဥက္ကဋ္ဌ

(signature) 5/7

ပြည်ထောင်စုမြန်မာနိုင်ငံတော်
အစိုးရအဖွဲ့

စာအမှတ်၊ ၆၉ / ၁၄၈ /အဖရ (၂၄/ ၂၀၁၀ ) ။
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဇွန်လ ၂၈ ရက်။

အ မှာ စာ

အကြောင်းအရာ။ ရွှေယမုံထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Shwe Yamone Manufacturing Co., Ltd.) မှ တန် (၃၀၀) ဆံ့အအေးခန်းစက်ရုံ တည်ဆောက်၍ သန့်ရှင်း လတ်ဆတ်သော ငါး/ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ ၂၀၁၀ ခုနှစ်၊ ဇွန်လ ၂၄ ရက် ( ကြာသပတေး )နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၄/၂၀၁၀) မှတ်တမ်း ကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်း ပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူ ဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

အတွင်းရေးမှူး( ကိုယ်စား )
(အောင်လွင်ဦး)

**ဥက္ကဋ္ဌ**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

၆၉။ ရွှေယမုံထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Shwe Yamone Manufacturing Co., Ltd.) မှ တန် (၃၀၀) ဆံ့အအေးခန်းစက်ရုံ တည်ဆောက်၍ သန့်ရှင်း လတ်ဆတ်သောငါး/ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၀ ခုနှစ်၊ ဇွန်လ ၁၆ ရက်နေ့စွဲပါ အမှာစာအမှတ်၊ ရက-၆(ခ)/မ-၁၄၈၉/၂၀၁၀ (၈၅၅၇)။

ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Shwe Yamone Manufacturing Co., Ltd.) မှ တန် (၃၀၀) ဆံ့ အအေးခန်းစက်ရုံ တည်ဆောက်၍ သန့်ရှင်း လတ်ဆတ်သော ငါး/ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူကြောင်းဆုံးဖြတ်ကြသည်။

ဆောင်ရွက်ရန်၊
ရင်းနှီးမြှုပ်နှံမှု။
မွေး+ရေ။



24-10 yellow

**ပြည်ထောင်စုမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

စာအမှတ်၊ ရက- ၆(ခ) /မ- ၁၄၈၉/ ၂၀၁၀ (၇၅၆၀)၊
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ မေ လ ၂၆ ရက်။

**ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ ။ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Shwe Yamone Manufacturing Co., Ltd.) မှ တန် (၃၀၀) ဆံ့ အအေးခန်းစက်ရုံ တည်ဆောက်၍ သန့်ရှင်း လတ်ဆတ်သော ငါး/ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီ ဖြစ်သော ရွှေယမုံ ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Shwe Yamone Manufacturing Co., Ltd.) မှ ကုမ္ပဏီ အမည်ဖြင့် လပွတ္တာမြို့၊ (၃)မိုင် မြို့ကွက်သစ် ချထားရေး ကော်မတီမှအသုံးပြုခွင့်ရရှိထားသော မြေကွက်အမှတ် C, C- I၊ ကျောက်မှော်ရွာကွင်း၊ ကွင်းအမှတ် (၅၇၉)၊ (၃)မိုင် မြို့ကွက်သစ်၊ လပွတ္တာမြို့နယ်ရှိ မြေ (၃.၆၇၂) ဧက (၁၄၈၆၀.၀၇ စတုရန်းမီတာ) တွင် တန် (၃၀၀) ဆံ့ အအေးခန်းစက်ရုံ တည်ဆောက်ပြီး သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင် ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်သက်မန်း မှ အဆိုပြု တင်ပြလာပါသည်။

၂။ ဧရာဝတီတိုင်း၊ အထူးတိုင်း စည်ပင်သာယာရေးအဖွဲ့မှ ၂၀၁၀ ခုနှစ်၊ မတ်လကုန် အပြီး အအေးခန်းစက်မှုဇုန်များကို အမြန်ဆုံး ဆောက်လုပ်ရန် ဥက္ကဋ္ဌ၊ ခရိုင်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုး ရေးကောင်စီ၊ လပွတ္တာမြို့သို့ လိပ်မူ၍ ဝါဝါဝင်း၊ TZTM၊ ရွှေယမုံ၊ GIF ကုမ္ပဏီများသို့ မိတ္တူပေးပို့ ထားသည့် အကြောင်းကြားစာကို တင်ပြထားပါသည်။

၃။ လျှပ်စစ်ဓါတ်အား အသုံးပြုမှုနှင့်စပ်လျဉ်း၍ 315 KVA Transformer ဖြင့် မြန်မာ့လျှပ်စစ် ဓါတ်အားလုပ်ငန်းမှ ရယူသုံးစွဲမည် ဖြစ်ပြီး မလုံလောက်ပါက ကုမ္ပဏီပိုင် Power Generator AC 230/ 250 KVA ဖြင့် သုံးစွဲမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ (၂၆-၃-၂၀၁၀) နေ့ တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁/ ၂၀၁၀) အစည်းအဝေးမှ "မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန သဘောထားရရှိပါက ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြ လမ်းညွှန်မှု ခံယူရန်" ဆုံးဖြတ်ခဲ့ပါသည်။

၅။ အဆိုပြုချက်တွင် တင်ပြထားသော ကုန်ကြမ်းရရှိနိုင်မှု နှင့် ကုန်ချော ထုတ်လုပ်နိုင်မှု အချိုးအစား ညီညွတ်မှုရှိကြောင်း၊ကုန်ကြမ်း လိုအပ်ချက်အပိုင်းတွင် အဆိုပြုချက်ပါ တင်ပြချက် ထက် ဒေသတွင် ပိုမိုရရှိနိုင်ကြောင်း၊ကုန်ကြမ်းရရှိမှုပေါ်မူတည်၍ ကုန်ချောပိုမိုထုတ်လုပ်နိုင်မည် ဖြစ်ကြောင်း၊ ကုန်ကြမ်းဈေးနှုန်းနှင့်ကုန်ချောဈေးနှုန်းများမှာ ပြင်ပနှင့် နှိုင်းယှဉ်ပါက အနည်းငယ် ကွဲလွဲလျှက်ရှိကြောင်း ၊ ကုန်ချော ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစားညီညွတ်မှု ရှိကြောင်းနှင့် တန်(၃၀၀)ဆံ့ အအေးခန်းစက်ရုံ တည်ဆောက်ပြီး ငါး/ပုစွန် ပြုပြင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို ကန့်ကွက်ရန် မရှိကြောင်း မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန မှ သဘောထားပြန်ကြားထားပါသည်။ <u>နောက်ဆက်တွဲ (က)</u>

၆။ မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန၏ သဘောထား ပြန်ကြားချက်အရ ကုန်ကြမ်း၊ ကုန်ချော ဈေးနှုန်းများကို ကုမ္ပဏီမှ ပြင်ဆင်တင်ပြလာပြီး ဖြစ်ပါသည်။ လုပ်ငန်း အဆိုပြုချက်အား <u>နောက်ဆက်တွဲ (ခ)</u> ဖြင့် တင်ပြအပ်ပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ စုစုပေါင်း ကျပ်(၇၉၇.၂၆)သန်းဖြစ်ပါသည်။ လုပ်ငန်း အတွက် လိုအပ် သော စက်ပစ္စည်းများကို ပြည်တွင်းရှိ ကုမ္ပဏီများမှ ဝယ်ယူမည် ဖြစ်ကြောင်း တင်ပြထားပါသည် -

| | | (ကျပ်သန်း) |
|---|---|---|
| **<u>စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု</u>** | | **<u>၇၉၇.၂၆</u>** |
| (က) | ငွေသား | ၁၀၀.၀၀ |
| (ခ) | မြေ | ၁၆.၀၀ |
| (ဂ) | အဆောက်အဦ | ၂၉၀.၇၀ |
| (ဃ) | စက်ပစ္စည်းကိရိယာများ | ၃၇၅.၁၁ |
| (င) | ပရိဘောဂများ | ၁၅.၄၅ |

၇။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်သည့် ရေခဲများကို လုပ်ငန်းအတွက် အသုံးပြုမည် ဖြစ်ပြီး ငါး၊ ပုစွန် ကုန်ချောများကို ပြည်ပသို့ ရာခိုင်နှုန်းပြည့် တင်ပို့မည် ဖြစ်ပါသည်။ ငါး၊ ပုစွန် အေးခဲခြင်း

ဝန်ဆောင်မှု လုပ်ငန်းလည်း ဆောင်ရွက်မည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှု၊ ဝန်ဆောင်မှု၊ ရောင်းဈေးနှုန်းနှင့် ဝန်ဆောင်ခ နှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| စဉ် | အမျိုးအစား | ထုတ်လုပ်မှု (မက်ထရစ်တန်) | တစ်မက်ထရစ်တန် | |
|---|---|---|---|---|
| | | | ရောင်းဈေးနှုန်း (US$) | ဝန်ဆောင်ခနှုန်း (ကျပ်) |
| ၁။ | ရေချိုငါး | ၃၅၃ | ၃၇၀၀ | |
| ၂။ | ရေငန်ငါး | ၂၆၇ | ၃၁၅၀ | |
| ၃။ | ရေချိုပုစွန် | ၃၆ | ၈၁၆၀ | |
| ၄။ | ပုစွန် (White) | ၂၀ | ၇၈၀၀ | |
| ၅။ | ပုစွန် (Tiger) | ၂၀ | ၈၄၀၀ | |
| ၆။ | ပုစွန် (Pink) | ၂၀ | ၇၂၀၀ | |
| ၇။ | ရေခဲ (300 Lb) | ၁၀၀၀၀ တုံး (လုပ်ငန်းသုံးရန်) | - | |
| | <u>ဝန်ဆောင်မှု</u> | | | |
| ၈။ | ငါး၊ပုစွန်အေးခဲခြင်း | ၄၄၀၀၀ | - | ၉၀၀၀၀ |

၈။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင်ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | | နိုင်ငံခြားငွေဖြင့် (US$ သန်း) | ကျပ်ငွေဖြင့် (ကျပ်သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | ၂.၉၁ | ၃၉၆၀.၀၀ |
| (ခ) | အသုံးစရိတ် | ၀.၂၉ | ၃၈၉၄.၀၈ |
| (ဂ) | အသားတင်အမြတ် | ၂.၆၂ | ၆၅.၉၂ |

၉။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် (၂၈.၂၅) သန်း၊ ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ (၀.၂၉) သန်း ရရှိမည် ဖြစ်ပါသည်။

၁၀။ လုပ်ငန်း၏အရင်းကြေကာလမှာ (၃)နှစ် နှင့် (၂)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၇.၉၉) ရာခိုင်နှုန်း ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၂၀၈)ဦး ခန့်ထားမည်ဖြစ်ပါသည်။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေးအတွက် ထမင်းစားခန်း၊ ရေချိုးခန်း၊ ရေအိမ်၊ နားနေခန်းနှင့် အဝတ်လဲခန်းများ စီစဉ်ပေးခြင်း၊ ဆုကြေးအဖြစ် အလုပ်ဆင်းရက်မှန်ဆု၊ အလုပ်ကြိုးစားဆု၊ လုပ်သက်အကြာဆုံးဆုများ ပံ့ပိုးပေးခြင်းနှင့် အလုပ်သမားဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၁။ ငွေကြေးအထောက်အထားအဖြစ် ကုမ္ပဏီ အမည်ဖြင့် မြန်မာ့မွေးမြူရေးနှင့် ရေလုပ်ငန်းဖွံ့ဖြိုးရေးဘဏ်ရှိ (၂၆-၂-၂၀၁၀) နေ့ ငွေလက်ကျန် ကျပ် (၅၀၀.၀၀) သန်း တင်ပြထားပါသည်။

၁၂။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှု မရှိကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် Waste Water Treatment Plant ကို တည်ဆောက်အသုံးပြုမည်ဖြစ်ပြီး၊ မီးဘေးအန္တရာယ်အတွက် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်/ တိုင်းစက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိမည်ဖြစ်ကြောင်း၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့်ပြု ရပါမည်။

<u>ဆုံးဖြတ်ရန်အချက်</u>

၁၄။ ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Shwe Yamone Manufacturing Co., Ltd.) မှ တန် (၃၀၀) ဆံ့ အအေးခန်းစက်ရုံ တည်ဆောက်၍ သန့်ရှင်း လတ်ဆတ်သော ငါး/ပုစွန်များ ပြုပြင် ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ -မတူ။

# ဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဥ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များအမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ရွှေယမုံထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Shwe Yamone Manufacturing Co., Ltd.) | ၁။ ဦးရဲလှိုင်ဝင်း (အုပ်ချုပ်မှုဒါရိုက်တာ) ၂။ ဦးအောင်သက်မန်း (ဒါရိုက်တာ) | အမှတ်- ၂၁ ၊ ခနိတန်းလမ်း၊ ပုသိမ်မြို့၊ဧရာဝတီတိုင်း။ အမှတ်-၁၀၃/၇ ၊ အောင်မြေသာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ |

၁။ ကုမ္ပဏီ၏ တယ်လီဖုန်းအမှတ်/ ဖက်စ်နံပါတ် - ၀၁ - ၅၀၀၃၄၄၊၅၀၂၆၂၇
၀၁- ၅၀၂၆၉၂

၂။ ကုမ္ပဏီ၏ လိပ်စာအပြည့်အစုံ - အမှတ် - ၅၊ ပြည်လမ်း၊ မရမ်းကုန်း မြို့နယ်၊ ရန်ကုန်မြို့။

၃။ ကုမ္ပဏီ၏ ဆက်သွယ်ရမည့်ပုဂ္ဂိုလ် အမည်/ရာထူး - ဦးအောင်သက်မန်း (ဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်းများ - စက်မှု/ထုတ်လုပ်မှုလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်ရက်စွဲ - ၁၉၆ / ၂၀၀၁- ၂၀၀၂ (၄-၆-၂၀၀၁)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်း ကုန်ဆုံးသည့်နေ့စွဲ - (၂၄-၅-၂၀၁၀)

၇။ ဘဏ်အမည်နှင့်ငွေစာရင်းအမှတ် - မြန်မာ့မွေးမြူရေးနှင့်ရေလုပ်ငန်းဖွံ့ဖြိုးရေးဘဏ်
0011130001805

နောက်ဆက်တွဲ(က)

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**

**မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန**

**ဝန်ကြီးရုံး**

စာအမှတ်၊ ၁ / ၂၀၀(ည) / ၅၁၀၀ / ၁( ၂၃၉ / ၂၀၁၀)၊

ရက်စွဲ ၊ ၂၀၁၀ ခုနှစ်၊ ဧပြီလ( ၂ )ရက်။

အကြောင်းအရာ။ ။ <u>ရွှေယမုံ ထုတ်လုပ်မှုကုမ္ပဏီလီမိတက် ( Shwe Yamone Manufacturing Co., Ltd ) မှ တန် (၃၀၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်၍ ငါး/ပုစွန် ပြုပြင်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စ။</u>

ရည် ညွှန်း ချက် ။ ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၁၉-၂-၂၀၁၀ ) ရက်စွဲပါစာ အမှတ်၊ ရက - ၆(က) / မ - ၁၀၆၂ / ၂၀၁၀ ( ၂၈၆၅ )။

(၂) ငါးလုပ်ငန်းဦးစီးဌာန ၏ ( ၂၃-၃-၂၀၁၀ ) ရက်စွဲပါစာအမှတ်၊ ၁၃၁ / (၂၀၀၉ - ၂၀၁၀) ထွေ / စက်ရုံ။

၁။ ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ရာဇဝတီတိုင်း၊ လပွတ္တာမြို့နယ်၊ (၃)မိုင်မြို့ကွက်သစ်၊ ကွင်းအမှတ်(၅၇၉)၊ ကျောက်မော်ရွာကွင်း၊ မြေကွက်အမှတ်(C, C - 1) ရှိ မြေ(၃.၆၇၂)ဧကတွင် တန်(၃၀၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး/ပုစွန် ပြုပြင် ထုတ်လုပ်ရောင်းချခြင်းနှင့် အအေးခန်းဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက်နှင့် စပ်လျဉ်း၍ စိစစ်ပြန်ကြားပေးရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ရည်ညွှန်းချက်(၁)ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ အဆိုပြုချက်ပါ လုပ်ငန်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည် -

(က) အဆိုပြုချက်တွင် ဖော်ပြထားသော ကုန်ကြမ်းရရှိနိုင်မှု အခြေအနေမှာ ရေငန်ပုစွန် တစ်နှစ်ပျမ်းမျှ(၅၀)တန်၊ ရေချိုပုစွန် တစ်နှစ်ပျမ်းမျှ(၇၅)တန်နှင့် ရေချို/ရေငန်ငါးတစ်နှစ် ပျမ်းမျှ(၃၅၀)တန်ခန့် ရရှိနိုင်မည် ဖြစ်ပါသည်။ ရေငန်ပုစွန်တစ်ရက်လျှင် (၈၅)ပိဿာ ခန့်၊

ရေချို့ပုစွန် တစ်ရက်လျှင် (၁၂၅)ပိဿာခန့် နှင့် ရေချို/ရေငန် ငါးတစ်ရက်လျှင် ပိဿာ (၁၂၀၀)ခန့် လိုအပ်ပါကြောင်း၊ ဒေသပတ်ဝန်းကျင် ခန့်မှန်းလေ့လာချက်အရ ရေချို/ရေငန်ပုစွန် တစ်ရက် ပျမ်းမျှ ပိဿာ(၅၀၀၀)ခန့်၊ ငါးမျိုးစုံပျမ်းမျှ တစ်ရက်လျှင်ပိဿာ (၃၀၀၀)ခန့် ရရှိနိုင်ပါကြောင်း၊ ကုန်ကြမ်းလိုအပ်ချက်အပိုင်းတွင် အဆိုပြုချက်ပါ တင်ပြချက်ထက် ဒေသတွင် ပိုမိုရရှိနိုင်ကြောင်း စိစစ်သိရှိရပါသည်။

(ခ) အဆိုပြုချက်ပါ ကုန်ချော ထုတ်လုပ်နိုင်မှုအပိုင်းတွင် ရေချို/ရေငန် ပုစွန် တစ်နှစ် (၈၀) တန်ခန့် ထုတ်လုပ်နိုင်မည်ဟု ဖော်ပြထားသဖြင့် တစ်ရက်(၀.၂)တန် ထုတ်လုပ်နိုင်ပါကြောင်း၊ ရေချို/ရေငန်ငါး တစ်နှစ်လျှင် (၅၅၈)တန်ထုတ်လုပ်နိုင်မည်ဟုဖော်ပြထားသဖြင့် တစ်ရက်လျှင် ငါး(၁.၅)တန် ထုတ်လုပ်နိုင်ပါကြောင်း၊ အဆိုပြု တင်ပြသည့် ကုန်ကြမ်း လိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစားညီညွတ်မှု ရှိသည်ကို တွေ့ရှိရပါသည်၊ ကုန်ကြမ်းရရှိမှုပေါ်မူတည်၍ ကုန်ချောပိုမိုထုတ်လုပ်နိုင်မည် ဖြစ်ကြောင်း စိစစ်တင်ပြ အပ်ပါသည်၊

(ဂ) ကုန်ကြမ်းဈေးနှုန်းမှာ အဆိုပြုချက်တွင် ရေချို/ရေငန်ပုစွန် တစ်ပိဿာလျှင် ကျပ် (၄၆၀၀)၊ ရေချိုရေငန် ငါးတစ်ပိဿာလျှင် ကျပ်(၇၀၀)ဖြင့် ဖော်ပြထားပါကြောင်း၊ စိစစ်လေ့လာချက်အရ ရေချို/ရေငန်ပုစွန်ပျမ်းမျှ တစ်ပိဿာလျှင် ကျပ်(၇၅၀၀)ခန့်၊ ရေချို/ရေငန် ငါးပျမ်းမျှ တစ်ပိဿာလျှင် ကျပ်(၅၅၀၀)ခန့်ရှိပါကြောင်း၊ ကုန်ချောဈေးနှုန်းမှာ အဆိုပြုချက်တွင် ပြည်ပရောင်းဈေး ရေချို/ရေငန်ပုစွန် တစ်တန်လျှင် US$ (၇၈၀၀)ခန့် နှင့် ငါးဈေးနှုန်းတစ်တန်လျှင် US$ (၂၃၀၀)ခန့်ဖော်ပြထားပါကြောင်း၊ ပြည်ပပို့ကုန် ဈေးနှုန်းကို ပြည်ပတွင် လေ့လာချက်အရ၊ ရေချို/ရေငန်ပုစွန် တစ်တန်လျှင် ပျမ်းမျှ US$ (၆၀၀၀)အထက် ရှိပါကြောင်းနှင့် ငါးတစ်တန်လျှင် ပျမ်းမျှ US$ (၃၀၀၀) ခန့်ရှိသဖြင့် ဈေးနှုန်းကွဲလွဲမှု အနည်းငယ်ရှိကြောင်း စိစစ်တင်ပြအပ်ပါသည်၊

(ဃ) စက်ရုံတွင် တပ်ဆင်မည့် ကုန်ချောထုတ်လုပ်ရန် စက်၏ Capacity မှာ ငါးပြုပြင် ထုတ်လုပ်ရန်အတွက် Blast Freezer ( 3 MT / 6 hr ) (1) Set နှင့် ပုစွန်ပြုပြင် ထုတ်လုပ်မည့် Contact Freezer (0.5 MT/90 min) (1) Set တပ်ဆင်မည် ဖြစ်ကြောင်း၊ အဆိုပါစက်များ၏ Capacity အရ အနည်းဆုံး တစ်နေ့ ငါး(၆)တန်နှင့် ပုစွန်(၁.၅)တန် ထုတ်လုပ်နိုင်ပါကြောင်း စိစစ်တင်ပြအပ်ပါသည်၊

(င) အဆိုပါစက်များကို ကိုင်တွယ်မောင်းနှင်ရန် အင်ဂျင်နီယာ (၂)ဦး၊ စက်မောင်း(၄)ဦး၊ ကုန်ကြမ်း/ကုန်ချောပစ္စည်း ထမ်းပိုးဆောင်ရွက်ရန် ကျွမ်းကျင်လုပ်သား နှင့် တစ်ဝက်တစ်ပျက် ကျွမ်းကျင်လုပ်သား (၁၇၅)ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ကြောင်း နှင့် စက်မောင်း (၄)ဦးမှာ အရေအတွက်နည်း၍ နောက်ထပ်(၂)ဦး ဖြည့်စွက်ခန့်ထားရန် လိုအပ်ပါကြောင်း၊ ကုန်ချောထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီမျှမှုရှိပါကြောင်း စိစစ်တင်ပြအပ်ပါသည်။

၃။ အထက်အပိုဒ်(၂)ပါစိစစ်ချက်အပြင် လုပ်ငန်းနှင့်စပ်လျဉ်းသည့် ကျွမ်းကျင်မှုနည်းပညာများကို အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည် -

(က) အဆိုပြုတင်ပြသည့် စက်ရုံတည်ဆောက်မည့် မြေနေရာမှာ ရွှေးမြစ်ကမ်းနံဘေးတွင် တည်ရှိပြီး၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ရေဆိုးများကို သန့်စင်သောစနစ်(Waste Water Treatment System)ဆောင်ရွက်ရန် အဆင်ပြေသဖြင့် စက်ရုံဆောက်လုပ်ရန် သင့်လျော်မှုရှိပါသည်။ မီးဘေးကြိုတင်ကာကွယ်မှုအစီအမံများ ဆောင်ရွက်ထားရှိမှုကို စိစစ်တွေ့ရှိရပါသည်၊

(ခ) လပွတ္တာမြို့သစ်၊ အအေးခန်းစက်မှုဇုန်တွင် ရွှေယမုံထုတ်လုပ်မှု ကုမ္ပဏီလီမိတက် အပါအဝင် အအေးခန်းစက်ရုံတည်ဆောက်ရန် တင်ပြလျှောက်ထားသော ကုမ္ပဏီ (၄)ခု ရှိပါသည်။ ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ တင်ပြထားသည့် မြေအကျယ် (၃.၆၇၂)ဧကမှာ စက်ရုံဆောက်လုပ်ရန် သင့်လျော်မှုရှိပါသည်၊

(ဂ) ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက်(Shwe Yamone Manufacturing Co., Ltd)မှ ဧရာဝတီတိုင်း၊ လပွတ္တာမြို့နယ်တွင် တန်(၃၀၀)ဆန့်၊ အအေးခန်းစက်ရုံ လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဧရာဝတီတိုင်းအတွင်းဒေသခံပြည်သူများအတွက် အလုပ်အကိုင် အသစ်များ ရရှိမည်ဖြစ်ခြင်း၊ ရေလုပ်ငန်းဆိုင်ရာ ခေတ်မီနည်းပညာများ တိုးပွား ရရှိစေခြင်း၊ ဒေသဆိုင်ရာဖွံ့ဖြိုးတိုးတက်မှုဖြစ်စေပြီး အလုပ်အကိုင် အခွင့်အလမ်းများ ရရှိလာမည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ ရွှေယမုံ ထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ တန်(၃၀၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်ပြီး၊ ငါး/ပုစွန် ပြုပြင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
( မြတ်ကျော်၊ ရုံးအဖွဲ့မှူး )

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

မိတ္တူ -

(၁) ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန။

(၂) အုပ်ချုပ်မှုဒါရိုက်တာ၊ ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက်။

ကော်မရှင်၏ (၁၁/ ၂၀၁၀) အစည်းအဝေး

အကြောင်းအရာ ။ ။ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Shwe Yamone Manufacturing Co., Ltd.) မှ တန် (၃၀၀) ဆံ့ အအေးခန်းစက်ရုံ တည်ဆောက်၍ သန့်ရှင်း လတ်ဆတ်သော ငါး/ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီ ဖြစ်သော ရွှေယမုံ ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Shwe Yamone Manufacturing Co., Ltd.) မှ ကုမ္ပဏီ အမည်ဖြင့် လပွတ္တာမြို့ (၃)မိုင် မြို့ကွက်သစ် ချထားရေး ကော်မတီမှအသုံးပြုခွင့်ရရှိထားသော မြေကွက်အမှတ် C, C- I၊ ကျောက်မှော်ရွာကွင်း၊ ကွင်းအမှတ် (၅၇၉) ၊ (၃)မိုင် မြို့ကွက်သစ်၊ လပွတ္တာမြို့နယ်ရှိ မြေ (၃.၆၇၂ ဧက) (၁၄၈၆၀.၀၇ စတုရန်းမီတာ) တွင် တန် (၃၀၀) ဆံ့ အအေးခန်းစက်ရုံ တည်ဆောက်ပြီး သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင် ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်သက်မန်း မှ အဆိုပြု တင်ပြလာပါသည်။

၂။ ဧရာဝတီတိုင်း၊ အထူးတိုင်း စည်ပင်သာယာရေးအဖွဲ့မှ ၂၀၁၀ ခုနှစ်၊ မတ်လကုန် အပြီး အအေးခန်းစက်မှုဇုန်များကို အမြန်ဆုံး ဆောက်လုပ်ရန် ဥက္ကဋ္ဌ၊ ခရိုင်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုး ရေးကောင်စီ၊ လပွတ္တာမြို့သို့ လိပ်မူ၍ ဝါဝါဝင်း၊ TZTM၊ ရွှေယမုံ၊ GIF ကုမ္ပဏီများသို့ မိတ္တူပေးပို့ ထားသည့် အကြောင်းကြားစာကို တင်ပြထားပါသည်။

၃။ လျှပ်စစ်ဓါတ်အား အသုံးပြုမှုနှင့်စပ်လျဉ်း၍ 315 KVA Transformer ဖြင့် မြန်မာ့လျှပ်စစ် ဓါတ်အားလုပ်ငန်းမှ ရယူသုံးစွဲမည် ဖြစ်ပြီး မလုံလောက်ပါက ကုမ္ပဏီပိုင် Power Generator AC 230/ 250 KVA ဖြင့် သုံးစွဲမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၄။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာနသို့ သဘောထား တောင်းခံထားပါသည်။

၅။ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုပမာဏမှာ စုစုပေါင်း ကျပ်(၇၉၇.၂၆)သန်းဖြစ်ပါသည်။ လုပ်ငန်း အတွက် လိုအပ်သော စက်ပစ္စည်းများကို ပြည်တွင်းရှိ ကုမ္ပဏီများမှ ဝယ်ယူမည် ဖြစ်ကြောင်း တင်ပြ ထားပါသည်။

**စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု** **ကျပ် ၇၉၇.၂၆ သန်း**

| | | |
|---|---|---|
| (က) | ငွေသား | ၁၀၀.၀၀ |
| (ခ) | မြေ | ၁၆.၀၀ |
| (ဂ) | အဆောက်အဦ | ၂၉၀.၇၀ |
| (ဃ) | စက်ပစ္စည်းကိရိယာများ | ၃၇၅.၁၁ |
| (င) | ပရိဘောဂများ | ၁၅.၄၅ |

၆။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်သည့် ရေခဲများကို လုပ်ငန်းအတွက် အသုံးပြုမည် ဖြစ်ပြီး ငါး၊ ပုစွန် ကုန်ချောများကို ပြည်ပသို့ ရာခိုင်နှုန်းပြည့် တင်ပို့မည် ဖြစ်ပါသည်။ ငါး၊ ပုစွန် အေးခဲခြင်း ဝန်ဆောင်မှု လုပ်ငန်းလည်း ဆောင်ရွက်မည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှု၊ ဝန်ဆောင်မှု၊ ရောင်းဈေးနှုန်းနှင့် ဝန်ဆောင်ခ နှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | အမျိုးအစား | ထုတ်လုပ်မှု (မက်ထရစ်တန်) | တစ်မက်ထရစ်တန် ရောင်းဈေးနှုန်း (US$) | ဝန်ဆောင်ခနှုန်း (ကျပ်) |
|---|---|---|---|---|
| ၁။ | ရေချိုငါး | ၃၅၃ | ၃၇၅၀ | |
| ၂။ | ရေငန်ငါး | ၂၆၇ | ၁၈၇၅ | |
| ၃။ | ရေငန်ပုစွန် | ၃၆ | ၈၇၅၀ | |
| ၄။ | ပုစွန် (White) | ၂၀ | ၁၀၀၀၀ | |
| ၅။ | ပုစွန် (Tiger) | ၂၀ | ၁၁၂၅၀ | |
| ၆။ | ပုစွန် (Pink) | ၂၀ | ၇၅၀၀ | |
| ၇။ | ရေခဲ (300 Lb) | ၁၀၀၀၀ တုံး (လုပ်ငန်းသုံးရန်) | - | |
| | <u>ဝန်ဆောင်မှု</u> | | | |
| ၈။ | ငါး၊ပုစွန်အေးခဲခြင်း | ၁၅၀၀၀ | - | ၇၆၀၉၀ |

Shwe Yamon

၇။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင်ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၁၁၄၁.၃၅ | ၁၆.၂၉ | ၁၁၅၇.၆၄ |
| (ခ) အသုံးစရိတ် | ၁၀၆၉.၆၈ | ၁.၆၃ | ၁၀၇၁.၃၁ |
| (ဂ) အသားတင်အမြတ် | ၇၁.၆၇ | ၁၄.၆၆ | ၈၆.၃၃ |

၈။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် (၃၀.၇၂) သန်း၊ ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ (၀.၂၇) သန်း ရရှိမည် ဖြစ်ပါသည်။

၉။ လုပ်ငန်း၏အရင်းကြေကာလမှာ (၄)နှစ် နှင့် (၁၁)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၈.၀၆) ရာခိုင်နှုန်း ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၂၀၆)ဦး ခန့်ထားမည်ဖြစ်ပါသည်။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေးအတွက် ထမင်းစားခန်း၊ ရေချိုးခန်း၊ ရေအိမ်၊ နားနေခန်းနှင့် အဝတ်လဲခန်းများ စီစဉ်ပေးခြင်း၊ ဆုကြေးအဖြစ် အလုပ်ဆင်းရက်မှန်ဆု၊ အလုပ်ကြိုးစားဆု၊ လုပ်သက်အကြာဆုံးဆုများ ပံ့ပိုးပေးခြင်းနှင့် အလုပ်သမားဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၀။ ငွေကြေးအထောက်အထားအဖြစ် ကုမ္ပဏီ အမည်ဖြင့် မြန်မာ့မွေးမြူရေးနှင့် ရေလုပ်ငန်းဖွံ့ဖြိုးရေးဘဏ်ရှိ (၂၆-၂-၂၀၁၀) နေ့ ငွေလက်ကျန် ကျပ် (၅၀၀.၀၀) သန်း တင်ပြထားပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် Waste Water Treatment Plant ကို တည်ဆောက်အသုံးပြုမည်ဖြစ်ပြီး၊ မီးဘေးအန္တရာယ်အတွက် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်/ တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိမည် ဖြစ်ကြောင်း၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြု ရပါမည်။

၁၃။ <u>စိစစ်တင်ပြချက်</u>

- ရွှေယမုံ ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် သည် ကော်မရှင် ခွင့်ပြုမိန့် အမှတ် မနသ- ၅၃၇/ ၂၀၀၂ (၁၅-၂-၂၀၀၂) ဖြင့် လှိုင်သာယာမြို့နယ်၊ စက်မှုဇုန် (၄)တွင် အအေးခန်းစက်ရုံလုပ်ငန်း ဆောင်ရွက်လျှက် ရှိပါသည်။

၁၄။ သို့ဖြစ်ပါ၍ ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Shwe Yamone Manufacturing Co., Ltd.) မှ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင် ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း အပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ရွှေယမုံထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Yamone Manufacturing Co., Ltd.) | ၁။ ဦးရဲလှိုင်ဝင်း (အုပ်ချုပ်မှုဒါရိုက်တာ)<br>၂။ ဦးအောင်သက်မန်း (ဒါရိုက်တာ) | အမှတ် - ၂၁၊ ခနိတန်းလမ်း၊ ပုသိမ်မြို့၊ ဧရာဝတီတိုင်း။<br>အမှတ် (၁၀၃)/ ၇၊ အောင်မြေသာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ |

M-544
2/4
ပ-၂
၉၀၆

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ၁ / ၂၀၀(ည) / ၅၁၀၀ / ၁( ၂၃၉ / ၂၀၁၀)၊
ရက်စွဲ ၊ ၂၀၁၀ ခုနှစ်၊ ဧပြီလ( ၂ )ရက်။

အကြောင်းအရာ။ ။ **ရွှေယမုံ ထုတ်လုပ်မှုကုမ္ပဏီလီမိတက် ( Shwe Yamone Manufacturing Co., Ltd ) မှ တန် (၃၀၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်၍ ငါး/ပုစွန် ပြုပြင်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။**

ရည် ညွှန်း ချက် ။ ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၁၉-၂-၂၀၁၀ ) ရက်စွဲပါစာအမှတ်၊ ရက - ၆(က) / မ - ၁၀၆၂ / ၂၀၁၀ ( ၂၈၆၅ )။

(၂) ငါးလုပ်ငန်းဦးစီးဌာန ၏ ( ၂၃-၃-၂၀၁၀ ) ရက်စွဲပါစာအမှတ်၊ ၁၃၁ / (၂၀၀၉ - ၂၀၁၀) ထွေ / စက်ရုံ။

၁။ ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ဧရာဝတီတိုင်း၊ လပွတ္တာမြို့နယ်၊ (၃)မိုင်မြို့ကွက်သစ်၊ ကွင်းအမှတ်(၅၇၉)၊ ကျောက်မော်ရွာကွင်း၊ မြေကွက်အမှတ်(C, C - 1) ရှိ မြေ(၃.၆၇၂)ဧကတွင် တန်(၃၀၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး/ပုစွန် ပြုပြင်ထုတ်လုပ်ရောင်းချခြင်းနှင့် အအေးခန်းဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက်နှင့် စပ်လျဉ်း၍ စိစစ်ပြန်ကြားပေးရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ရည်ညွှန်းချက်(၁)ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ အဆိုပြုချက်ပါ လုပ်ငန်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည် -

(က) အဆိုပြုချက်တွင် ဖော်ပြထားသော ကုန်ကြမ်းရရှိနိုင်မှု အခြေအနေမှာ ရေငန်ပုစွန် တစ်နှစ်ပျမ်းမျှ(၅၀)တန်၊ ရေချိုပုစွန် တစ်နှစ်ပျမ်းမျှ(၇၅)တန်နှင့် ရေချို/ရေငန်ငါးတစ်နှစ်ပျမ်းမျှ(၃၅၀)တန်ခန့် ရရှိနိုင်မည် ဖြစ်ပါသည်။ ရေငန်ပုစွန်တစ်ရက်လျှင် (၈၅)ပိဿာ ခန့်၊

ရေချိုပုစွန် တစ်ရက်လျှင် (၁၂၅)ပိသာခန့် နှင့် ရေချို/ရေငန် ငါးတစ်ရက်လျှင် ပိဿာ (၁၂၀၀)ခန့် လိုအပ်ပါကြောင်း၊ ဒေသပတ်ဝန်းကျင် ခန့်မှန်းလေ့လာချက်အရ ရေချို/ရေငန်ပုစွန် တစ်ရက် ပျမ်းမျှ ပိဿာ(၅၀၀၀)ခန့်၊ ငါးမျိုးစုံပျမ်းမျှ တစ်ရက်လျှင်ပိဿာ (၃၀၀၀)ခန့် ရရှိနိုင်ပါကြောင်း၊ ကုန်ကြမ်းလိုအပ်ချက်အပိုင်းတွင် အဆိုပြုချက်ပါ တင်ပြချက်ထက် ဒေသတွင် ပိုမိုရရှိနိုင်ကြောင်း စိစစ်သိရှိရပါသည်။

(ခ) အဆိုပြုချက်ပါ ကုန်ချော ထုတ်လုပ်နိုင်မှုအပိုင်းတွင် ရေချို/ရေငန် ပုစွန် တစ်နှစ် (၈၀) တန်ခန့် ထုတ်လုပ်နိုင်မည်ဟု ဖော်ပြထားသဖြင့် တစ်ရက်(၀.၂)တန် ထုတ်လုပ်နိုင်ပါကြောင်း၊ ရေချို/ရေငန်ငါး တစ်နှစ်လျှင် (၅၅၈)တန်ထုတ်လုပ်နိုင်မည်ဟုဖော်ပြထားသဖြင့် တစ်ရက်လျှင် ငါး(၁.၅)တန် ထုတ်လုပ်နိုင်ပါကြောင်း၊ အဆိုပြု တင်ပြသည့် ကုန်ကြမ်း လိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစားညီညွတ်မှု ရှိသည်ကို တွေ့ရှိရပါသည်၊ ကုန်ကြမ်းရရှိမှုပေါ်မူတည်၍ ကုန်ချောပိုမိုထုတ်လုပ်နိုင်မည် ဖြစ်ကြောင်း စိစစ်တင်ပြ အပ်ပါသည်၊

(ဂ) ကုန်ကြမ်းဈေးနှုန်းမှာ အဆိုပြုချက်တွင် ရေချို/ရေငန်ပုစွန် တစ်ပိဿာလျှင် ကျပ် (၄၆၀၀)၊ ရေချိုရေငန် ငါးတစ်ပိဿာလျှင် ကျပ်(၇၀၀)ဖြင့် ဖော်ပြထားပါကြောင်း၊ စိစစ်လေ့လာချက်အရ ရေချို/ရေငန်ပုစွန်ပျမ်းမျှ တစ်ပိဿာလျှင် ကျပ်(၇၅၀၀)ခန့်၊ ရေချို/ရေငန် ငါးပျမ်းမျှ တစ်ပိဿာလျှင် ကျပ်(၅၅၀၀)ခန့်ရှိပါကြောင်း၊ ကုန်ချောဈေးနှုန်းမှာ အဆိုပြုချက်တွင် ပြည်ပရောင်းဈေး ရေချို/ရေငန်ပုစွန် တစ်တန်လျှင် US$ (၇၈၀၀)ခန့် နှင့် ငါးဈေးနှုန်းတစ်တန်လျှင် US$ (၂၃၀၀)ခန့်ဖော်ပြထားပါကြောင်း၊ ပြည်ပပို့ကုန်ဈေးနှုန်းကို ပြည်ပတွင် လေ့လာချက်အရ၊ ရေချို/ရေငန်ပုစွန် တစ်တန်လျှင် ပျမ်းမျှ US$ (၆၀၀၀)အထက် ရှိပါကြောင်းနှင့် ငါးတစ်တန်လျှင် ပျမ်းမျှ US$ (၃၀၀၀) ခန့်ရှိသဖြင့် ဈေးနှုန်းကွဲလွဲမှု အနည်းငယ်ရှိကြောင်း စိစစ်တင်ပြအပ်ပါသည်၊

(ဃ) စက်ရုံတွင် တပ်ဆင်မည့် ကုန်ချောထုတ်လုပ်ရန် စက်၏ Capacity မှာ ငါးပြုပြင်ထုတ်လုပ်ရန်အတွက် Blast Freezer ( 3 MT / 6 hr ) (1) Set နှင့် ပုစွန်ပြုပြင်ထုတ်လုပ်မည့် Contact Freezer (0.5 MT/90 min) (1) Set တပ်ဆင်မည်ဖြစ်ကြောင်း၊ အဆိုပါစက်များ၏ Capacity အရ အနည်းဆုံး တစ်နေ့ ငါး(၆)တန်နှင့် ပုစွန်(၁.၅)တန် ထုတ်လုပ်နိုင်ပါကြောင်း စိစစ်တင်ပြအပ်ပါသည်၊

(င) အဆိုပါစက်များကို ကိုင်တွယ်မောင်းနှင်ရန် အင်ဂျင်နီယာ (၂)ဦး၊ စက်မောင်း(၄)ဦး၊ ကုန်ကြမ်း/ကုန်ချောပစ္စည်း ထမ်းပိုးဆောင်ရွက်ရန် ကျွမ်းကျင်လုပ်သား နှင့် တစ်ဝက်တစ်ပျက် ကျွမ်းကျင်လုပ်သား (၁၇၅)ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ကြောင်း နှင့် စက်မောင်း (၄)ဦးမှာ အရေအတွက်နည်း၍ နောက်ထပ်(၂)ဦး ဖြည့်စွက်ခန့်ထားရန် လိုအပ်ပါကြောင်း၊ ကုန်ချောထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီမျှမှုရှိပါကြောင်း စိစစ်တင်ပြအပ်ပါသည်။

၃။ အထက်အပိုဒ်(၂)ပါစိစစ်ချက်အပြင် လုပ်ငန်းနှင့်စပ်လျဉ်းသည့် ကျွမ်းကျင်မှုနည်းပညာများကို အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည် -

(က) အဆိုပြုတင်ပြသည့် စက်ရုံတည်ဆောက်မည့် မြေနေရာမှာ ရွှေးမြစ်ကမ်းနံဘေးတွင် တည်ရှိပြီး၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ရေဆိုးများကို သန့်စင်သောစနစ်(Waste Water Treatment System)ဆောင်ရွက်ရန် အဆင်ပြေသဖြင့် စက်ရုံဆောက်လုပ်ရန် သင့်လျော်မှုရှိပါသည်။ မီးဘေးကြိုတင်ကာကွယ်မှုအစီအမံများ ဆောင်ရွက်ထားရှိမှုကို စိစစ်တွေ့ရှိရပါသည်၊

(ခ) လှပ္ပတ္တာမြို့သစ်၊ အအေးခန်းစက်မှုဇုန်တွင် ရွှေယမုံထုတ်လုပ်မှု ကုမ္ပဏီလီမိတက် အပါအဝင် အအေးခန်းစက်ရုံတည်ဆောက်ရန် တင်ပြလျှောက်ထားသော ကုမ္ပဏီ (၄)ခု ရှိပါသည်။ ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ တင်ပြထားသည့် မြေအကျယ် (၃.၆၇၂)ဧကမှာ စက်ရုံဆောက်လုပ်ရန် သင့်လျော်မှုရှိပါသည်၊

(ဂ) ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက်(Shwe Yamone Manufacturing Co., Ltd)မှ ဧရာဝတီတိုင်း၊ လပ္ပတ္တာမြို့နယ်တွင် တန်(၃၀၀)ဆန့်၊ အအေးခန်းစက်ရုံ လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဧရာဝတီတိုင်းအတွင်းဒေသခံပြည်သူများအတွက် အလုပ်အကိုင် အသစ်များ ရရှိမည်ဖြစ်ခြင်း၊ ရေလုပ်ငန်းဆိုင်ရာ ခေတ်မီနည်းပညာများ တိုးပွား ရရှိစေခြင်း၊ ဒေသဆိုင်ရာဖွံ့ဖြိုးတိုးတက်မှုဖြစ်စေပြီး အလုပ်အကိုင် အခွင့်အလမ်းများ ရရှိလာမည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ ရွှေယမုံ ထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ တန်(၃၀၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်ပြီး၊ ငါး/ပုစွန် ပြုပြင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)

( မြတ်ကျော်၊ ရုံးအဖွဲ့မှူး )

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

မိတ္တူ -

(၁) ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန။

(၂) အုပ်ချုပ်မှုဒါရိုက်တာ၊ ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက်။

FROM : D.G.D.O.F FAX NO. : Mar. 23 2010 03:50PM P1

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန**
**ငါးလုပ်ငန်းဦးစီးဌာန**

စာအမှတ်၊ ၁၃၁ (၂၀၀၉-၂၀၁၀)ထွေ / စက်ရုံ
ရက်စွဲ ၂၀၁၀ ခုနှစ်၊ မတ်လ(၂၃)ရက်

အကြောင်းအရာ။ ။ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ တန်(၃၀၀)ဆန့် အအေးခန်းစက်ရုံတည်ဆောက်၍ ငါး/ပုစွန်ပြုပြင်အေးခဲထုတ်လုပ်ခြင်း၊ အအေးခန်း ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြလာခြင်းကိစ္စ။

ရည်ညွှန်းချက် ။ (၁)ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက် ( Shwe Yamone Manufacturing Co, Ltd) ၏ (၈-၂-၂၀၁၀)ရက်စွဲပါတင်ပြစာ၊
(၂)မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၆-၂-၂၀၁၀)ရက်စွဲပါစာအမှတ်၊ရကဖ-ဖ (က) /မ-၁၀၆၂ /၂၀၁၀ (၂၈၆၅)၊
(၃)မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏(၄-၃-၂၀၁၀)ရက်စွဲပါစာအမှတ်၊ ၁/ ၂၀၀ (ည) ၅၁၀၀ /၁ (၁၆၈ /၂၀၁၀)၊

၁။ ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Shwe Yamone Manufacturing Co, Ltd) သည် ဧရာဝတီတိုင်း၊ လပွတ္တာမြို့နယ်၊ (၃)မိုင်မြို့ကွက်သစ်၊ ကွင်းအမှတ်(၅၇၉)၊ ကျောက်မော်ရွာကွင်း၊ မြေကွက်အမှတ် (C, C-1) ရှိမြေ(၃.၆၇၂)ကေတွင်တန်(၃၀၀)ဆန့်အအေးခန်းစက်ရုံတည်ဆောက်၍ သန့်ရှင်းလတ်ဆပ်သော ငါး/ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်းနှင့် အအေးခန်းဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပါတင်ပြလာသည့်အဆိုပြုချက်အပေါ် မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှရည်ညွှန်းချက်(၂)ပါစာဖြင့် အကြောင်းကြားလာပါသည်။

၃။ အဆိုပြုချက်လုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါအချက်များအား စိစစ်လေ့လာပြီး တင်ပြပေးပါရန် မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနမှ ရည်ညွှန်းချက်(၃)ပါစာဖြင့် အကြောင်းကြားလာပါသည်။

(က) နှစ်စဉ်ကုန်ကြမ်းလိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှုအမျိုးအစား ညီညွတ်မှုရှိ /မရှိ၊
(ခ) ကုန်ကြမ်းဈေးနှင့်ကုန်ချောဈေးနှုန်းများတင်ပြထားမှုသည် ဆီလျော်မှုရှိ /မရှိ၊
(ဂ) နှစ်စဉ်ထုတ်လုပ်မှုနှင့်စက်အင်အား/လူအင်အားအမျိုးအစား ညီမျှမှုရှိ /မရှိ၊

၄။ အထက်ပါအချက်များအပြင် လုပ်ငန်းနှင့်စပ်လျဉ်းသည့် ကျွမ်းကျင်မှုနည်းပညာပိုင်းဆိုင်ရာ အချက်အလက်များကိုပါ အထူးပြုပြန်ကြားပေးပါရန် လမ်းညွှန်မှုပြုခဲ့ပါသည်။

၅။ အဆိုပြုချက်ပါ လုပ်ငန်းနှင့်စပ်လျဉ်း၍ တန်(၃၀၀)ဆန့်အအေးခန်းစက်ရုံ တည်ဆောက်ခြင်း၊ ငါး /ပုစွန်ပြုပြင်အေးခဲခြင်းလုပ်ငန်းကို ဆောင်ရွက်မည့်ဒေသသို့ ကွင်းဆင်းစစ်ဆေးပြီး တွေ့ရှိချက်များကို အောက်ပါအတိုင်း စီစစ်တင်ပြအပ်ပါသည်

(က) အဆိုပြုချက်တွင်ဖော်ပြထားသောကုန်ကြမ်းရရှိနိုင်မှုအခြေအနေမှာ ရေငန်ပုစွန်တစ်နှစ်လျှင် ပျမ်းမျှ(၅၀)တန်၊ ရေချိုပုစွန်တစ်နှစ်လျှင်ပျမ်းမျှ(၇၅)တန်နှင့်ရေချို /ရေငန်ငါးတစ်နှစ်လျှင် ပျမ်းမျှ(၃၅၀)တန်ခန့် ရရှိနိုင်မည်ဟုစီစစ်တွေ့ရှိရပါသည်။အဆိုပါကိန်းဂဏန်းပေါ် အခြေခံ၍ တွက်ချက်ကြည့်ပါက ရေငန်ပုစွန်သည် တစ်ရက်လျှင်(၈၅)ပိဿာခန့်၊ ရေချိုပုစွန်သည် တစ်ရက်လျှင်(၁၂၅)ပိဿာခန့်နှင့် ရေချို/ရေငန်ငါးသည် တစ်ရက်လျှင် ပိဿာ(၁၂၀၀)ခန့် ရရှိရန်လိုအပ်ကြောင်း စီစစ်တွေ့ရှိရပါသည်။ဒေသပတ်ဝန်းကျင်တွင် စုံစမ်းလေ့လာချက်အရ ရေချို/ရေငန်ပုစွန်သည် တစ်ရက်လျှင်ပျမ်းမျှပိဿာ(၅၀၀၀)ခန့်ရရှိနိုင်ကြောင်းနှင့် ငါးမျိုးစုံ ပျမ်းမျှတစ်ရက်လျှင် ပိဿာ(၃၀၀၀)ခန့်ရရှိနိုင်ကြောင်း စီစစ်သိရှိရပါသည်။ရေငန်ပုစွန်တွင် ပုစွန်ကျားထုတ်၊မိုးနီနှင့်ဘော့ချိတ်အမျိုးအစားများပါဝင်ပါသည်။ငါးမျိုးစုံဆိုသည်မှာကကတစ် ကသပေါင်း၊ ကက္ကူရံ၊ ငါးသလောက်၊ ငါးပုတ်သင်၊ ငါးမုတ်၊ ငါးဒန်စသည့်ငါးများ ပါဝင်ပါသည်။ထို့ကြောင့် ကုန်ကြမ်းလိုအပ်ချက်အပိုင်းတွင် အဆိုပြုချက်ပါတင်ပြချက်ထက် ဒေသတွင်ပိုမိုရရှိနိုင်ကြောင်း စီစစ်သိရှိရပါသည်။ကုန်ချောထုတ်လုပ်နိုင်မှုအပိုင်းတွင်ရေချို/ ရေငန်ပုစွန် တစ်နှစ်လျှင်တန်(၈၀)ခန့်ထုတ်လုပ်နိုင်မည်ဟု ဖော်ပြထား၍ တစ်ရက်လျှင် (၀.၂)တန်သာ ထုတ်လုပ်နိုင်မည်ဖြစ်ကြောင်းနှင့် ရေချို /ရေငန်ငါးမှာ တစ်နှစ်လျှင် (၅၅၈)တန်ထုတ်လုပ်နိုင်မည်ဟုဖော်ပြထားသဖြင့် တစ်ရက်လျှင်(၁.၅)တန်သာ ထုတ်လုပ်နိုင်မည်ဟု တွက်ချက်သိရှိရပါသည်။ကုန်ချောထုတ်လုပ်မှုအပိုင်းတွင်လည်း ထုတ်လုပ်မှုပမာဏနည်းနေကြောင်း စီစစ်တွေ့ရှိရပြီး ကုန်ကြမ်းရရှိမှုအပေါ်မူတည်၍ ကုန်ချောပိုမို ထုတ်လုပ်နိုင်မည်ဖြစ်ကြောင်း စီစစ်တင်ပြအပ်ပါသည်။

(ခ) အဆိုပြုချက်တွင်ဖော်ပြထားသော ကုန်ကြမ်းဈေးနှုန်းမှာရေချို/ရေငန်ပုစွန် (၁)ပိဿာလျှင် ကျပ်(၄၆၀၀)ဈေးနှုန်းရှိပြီး ရေချို /ရေငန်ငါးမှာ (၁)ပိဿာလျှင် ကျပ်(၇၀၀)ခန့်ရှိကြောင်း စီစစ်သိရှိရပါသည်။ဒေသတွင် လေ့လာစုံစမ်းချက်အရ ရေချို /ရေငန်ပုစွန် ပျမ်းမျှဈေးနှုန်းမှာ (၁)ပိဿာလျှင် ကျပ်(၇၅၀၀)ခန့်ရှိပြီး ရေချို /ရေငန်ငါးဈေးနှုန်းမှာ ပျမ်းမျှ(၁)ပိဿာလျှင် ကျပ်(၅၅၀၀)ခန့်ရှိကြောင်း စီစစ်သိရှိရပါသည်။ကုန်ချောဈေးနှုန်းများမှာ အဆိုပြုချက်တွင် ပြည်ပရောင်းဈေး ရေချို /ရေငန်ပုစွန်(၁)တန်လျှင် ပျမ်းမျှ US $ (၇၈၀၀)ခန့်နှင့် ရေ/ချို /ရေငန်ငါးဈေးနှုန်းမှာ (၁)တန်လျှင်ပျမ်းမျှ US$(၂၃၀၀)ခန့် ဖြင့်ဖော်ပြထားကြောင်း စီစစ်သိရှိရပါသည်။ပြည်ပပို့ကုန်ဈေးနှုန်းများကို ပြင်ပတွင်စီစစ် လေ့လာချက်အရရေချို/ရေငန်ပုစွန်(၁)တန်လျှင်ပျမ်းမျှ US $ (၆၀၀၀)အထက်တွင်ရှိကြောင်းနှင့် ငါး(၁)တန်လျှင် ပျမ်းမျှပျမ်းမျှ US $ (၃၀၀၀)ခန့် တန်ဘိုးရှိကြောင်း စီစစ်သိရှိရပါသည်။ ထို့ကြောင့် ရွေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက်၏ အဆိုပြုချက်တွင်ဖော်ပြထားသော ကုန်ကြမ်းနှင့်ကုန်ချောဈေးနှုန်းမှာလေ့လာသိရှိချက်နှင့်နှိုင်းယှဉ်ပါကအနည်းငယ်ကွဲလွဲလျက် ရှိကြောင်း စီစစ်တင်ပြအပ်ပါသည်။

(ဂ) စက်ရုံတွင်တပ်ဆင်မည့် ကုန်ချောထုတ်လုပ်ရန် စက်များ၏ Capacity မှာ ငါးပြုပြင်ထုတ်လုပ်ရန်အတွက် Blast Freezer (3 MT / 6 hr ) (1) Set နှင့် ပုစွန်ပြုပြင်ထုတ်လုပ်မည့် Contact Freezer (0.5 MT / 90 min ) (1) Set တပ်ဆင်မည်ဖြစ်ကြောင်း စိစစ်သိရှိရပါသည်။ အဆိုပါစက်များ၏ Capacity အရ အနည်းဆုံး တစ်နေ့ငါး(၆)တန်နှင့် ပုစွန်(၁.၅)တန် ထုတ်လုပ်နိုင်ကြောင်းစိစစ်သိရှိရပါသည်။အဆိုပါ စက်များကိုကိုင်တွယ်မောင်းနှင်ရန်အတွက် အင်ဂျင်နီယာ(၂)ဦး၊ စက်မောင်း(၄)ဦးနှင့် ကုန်ကြမ်း/ကုန်ချောပစ္စည်းများ ထမ်းပိုးဆောင်ရွက်ရန်အတွက် ကျွမ်းကျင်လုပ်သားနှင့် တစ်ဝက်တစ်ပျက် ကျွမ်းကျင်လုပ်သား (၁၇၅)ဦး ခန့်ထားဆောင်ရွက်မည်ဖြစ်ကြောင်း စိစစ်သိရှိရပါသည်။စက်မောင်း(၄)ဦးမှာ အရေအတွက်နည်း၍ နောက်ထပ်(၂)ဦး ဖြည့်စွက်ခန့်ထားရန် လိုအပ်ပါသည်။သို့မှသာ ကုန်ချောထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစားညီညွတ်လုံလောက်မှု ရှိမည်ဖြစ်ကြောင်း စိစစ်တင်ပြအပ်ပါသည်။

၆။ ထို့အပြင် အဆိုပြုလွှာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ရေဆိုးများကိုသန့်စင်သောစနစ်၊ မီးဘေးကြိုတင်ကာကွယ်မှုအစီအစဉ်များ ဆောင်ရွက်ထားရှိသည့် အစီအမံများကို စိစစ်တွေ့ရှိရပါသည်။

၇။ လှိုင်သာယာမြို့သစ်၊ အအေးခန်းစက်မှုဇုံတွင် ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက် အပါအဝင် အအေးခန်းစက်ရုံ တည်ဆောက်ရန် တင်ပြလျှောက်ထားသော ကုမ္ပဏီများမှာ (၄)ခုရှိပါသည်။ တည်ဆောက်မည့် စက်ရုံမြေနေရာများမှာ ချောင်းမြစ်ကမ်းနံဘေးတွင်ဖြစ်၍ Waste Water Treatment System ဆောင်ရွက်ရန်အတွက် အစဉ်ပြေသဖြင့် စက်ရုံဆောက်လုပ်ရန် သင့်တော်မှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၈။ သို့ဖြစ်ပါ၍ ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက်သည် လှိုင်သာယာမြို့နယ်၊ (၃)မိုင်မြို့သစ်၊ ကွင်းအမှတ်(၅၇၉)၊ ကျောက်မော်ချောင်းကွင်း၊ မြေကွက်အမှတ် (C , C-1) ရှိ မြေ(၃.၆၇၂)ဧကတွင် ခေတ်မီတန်(၃၀၀)ဆန့်အအေးခန်းစက်ရုံတည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး /ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်းနှင့် အအေးခန်းဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခြင်းအတွက် ဒေသတွင်းရှိ ဒေသခံပြည်သူများ အလုပ်အကိုင်သစ်များရရှိလာမည်ဖြစ်ခြင်း၊ ရေလုပ်ငန်းဆိုင်ရာဖွံ့ဖြိုးတိုးတက်မှုဖြစ်ပေါ်လာမည်ဖြစ်ခြင်းအပြင်ဒေသဆိုင်ရာဖွံ့ဖြိုးတိုးတက်မှုဖြစ်ပေါ်လာမည်ဖြစ်ပါသဖြင့် ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ခေတ်မီတန်(၃၀၀)ဆန့်အအေးခန်းစက်ရုံ တည်ဆောက်ခြင်းလုပ်ငန်းကို ကန့်ကွက်ရန်မရှိပါကြောင်းနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

(signature)
ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(ဝင်းသိန်းဦး၊ ညွှန်ကြားရေးမှူး)

ဝန်ကြီးရုံး
မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန

မိတ္တူကို-

- ရုံးလက်ခံ
- မျှောစာတွဲ

